





မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၉၀/ ၉၇ ၁၉၉၇ ခုနှစ်၊ စက်တင်ဘာ လ ၃၀ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး အောင်ဝင်း

(ခ) အဘအမည် ဦးဘင်ကင်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ပီဂိုင်ယူ-၁၄၁၁၂၆

(ဃ) နေရပ်လိပ်စာ အမှတ် ၃၃ (ဘီ)၊ ဓမ္မာရုံလမ်း၊ (၁၅) ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ရောင်နီဦးကုမ္ပဏီလီမိတက်
( Yaung Ni Oo Company Limited )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ရုံးခန်း၊ ဆိုင်ခန်း နှင့် လူနေအိမ်ခန်းများ ပါဝင်သည့် (၈) ထပ်နှင့် (၇) ထပ်အဆောက်အအုံတည်ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) (၁) မြေကွက်အမှတ် ၁၆၊ ၁၆(က)၊ မြေတိုင်းအမှတ် (၂၂ဇက်) ၊ဘုန်းကြီးလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ (၂) မြေကွက် အမှတ် III-၄၇၊ မြေတိုင်းအမှတ် (၁၆အီ၂)၊ ၃၂လမ်း၊ ပန်းဘဲတန်းမြို့နယ်

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ကျပ်၁၀၈.၀ သန်း ( ကျပ်တစ်ရာ့ရှစ်သန်းတိတိ ) ရန်ကုန်မြို့။

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၃၇/၉၇
ရန်ကုန်မြို့၊ ၁၃၅၉ ခုနှစ်၊ တော်သလင်းလပြည့်ကျော် ၁၄ရက်။
(၁၉၉၇ ခုနှစ်၊ စက်တင်ဘာလ ၃၀ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော ရောင်နီဦး ကုမ္ပဏီ လီမိတက် (Yaung Ni Oo Co., Ltd.) သည် လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေး နှင့် ပြန်လည်နေရာချထားရေး ဝန်ကြီးဌာန၊ မီးသတ်ဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ လမ်းမတော်မြို့နယ်၊ ဘုန်းကြီးလမ်း၊ မြေကွက်အမှတ်(၁၆၊၁၆-က)၊ မြေတိုင်းအမှတ် (၂၂ဇက်) ရှိ (ပေ၅၀×၂၅.၇၅ပေ) မြေကွက် နှင့် ရန်ကုန်တိုင်း၊ ပန်းဘဲတန်းမြို့နယ်၊ ၃၂လမ်း၊ မြေကွက် အမှတ်(III -.၄၇)၊ မြေတိုင်းအမှတ် (၁၆ ဒီ) ရှိ (ပေ၅၀×ပေ၄၀) မြေကွက်များအား ကနဦးနှစ်(၃၀) ငှားရမ်း၍ (၈)ထပ် နှင့် (၇)ထပ် အမြင့် ရှိသော Commercial Complex, Office & Apartment and Shopping Center တို့ကို B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ရုံးခန်း၊ ဆိုင်ခန်း၊ လူနေအိမ်ခန်းများ ပါရှိသည့် အဆောက်အဦ ဆောက်လုပ်၍ ငှားရမ်းခြင်း လုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၉-၈-၉၇) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၄/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့် အညီ (၁၆-၉-၉၇) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ အဖွဲ့၏ (၃၆/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ ဒုတိယ ဝန်ကြီးချုပ်ရုံးမှ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ရောင်နီဦး ကုမ္ပဏီ လီမိတက် (Yaung Ni Oo Co., Ltd.) အား နိုင်ငံတကာ အဆင့်မီ ရုံးခန်း၊ ဆိုင်ခန်း၊ လူနေအိမ်ခန်းများ ပါရှိသည့် အဆောက်အဦ ဆောက်လုပ်၍ ငှားရမ်းခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၀၉၀/၉၇ ကို ထုတ်ပေးလိုက်သည်။

၂။ ရောင်နီဦး ကုမ္ပဏီ လီမိတက် (Yaung Ni Oo Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှုလုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်းအခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၁၃(ဈ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

(ဃ) အထက်အပိုဒ် (က) ပါ နည်းလမ်းများဖြင့် ပြည်ပမှ ပစ္စည်းများ တင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှ ရရှိသည့် နိုင်ငံခြား ငွေဖြင့်သာ ပေးဆပ်ရန်။

၄။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် အငှားချထားသူ မီးသတ်ဦးစီးဌာနနှင့် အငှားချထားခြင်းခံရသူ ရောင်နီဦး ကုမ္ပဏီ လီမိတက်(Yaung Ni Oo Co., Ltd.) တို့ချုပ်ဆိုမည့် (B.O.T) စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးသည့် အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ တင်ပြရမည်။

၅။ လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေး နှင့် ပြန်လည်နေရာချထားရေး ဝန်ကြီးဌာန၊ မီးသတ်ဦးစီးဌာန နှင့် ရောင်နီဦး ကုမ္ပဏီ လီမိတက် (Yaung Ni Oo Co., Ltd.) တို့ ချုပ်ဆိုမည့် (B.O.T) စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်၏ သက်တမ်းကာလမှာ ကနဦးအနှစ်(၃၀) ဖြစ်ပြီး၊ နောက် ၅နှစ် ၃ကြိမ် တိုးမြှင့်ခွင့်ပြုသည်။

၆။ ခေတ်မီ(၈)ထပ် အဆောက်အဦကို မြေလွှဲပြောင်း လက်ခံရရှိသည့် နေ့မှ(၁၈)လအတွင်း အပြီး တည်ဆောက်ရန် နှင့် ပြီးစီးခြင်းမရှိပါက (၁၈)လပြည့်သည့် နေ့မှစ၍ ကျသင့်သော ငှားရမ်းခများကို ပေးသွင်းရန် နှင့် ငှားရမ်းကာလကို (၁၈)လပြည့်သည့် နေ့မှစ၍ ရေတွက်ရမည်။

၇။ ခေတ်မီ(၇)ထပ် အဆောက်အဦကို မြေလွှဲပြောင်း လက်ခံရရှိသည့် နေ့မှ(၂၄)လအတွင်း အပြီး တည်ဆောက်ရန်နှင့် ပြီးစီးခြင်း မရှိပါက (၂၄)လပြည့်သည့်နေ့မှစ၍ ကျသင့်သော ငှားရမ်းခများကို ပေးသွင်းရန် နှင့် ငှားရမ်းကာလကို (၂၄)လပြည့်သည့် နေ့မှစ၍ ရေတွက်ရမည်။

၈။ ရောင်နီဦး ကုမ္ပဏီ လီမိတက် (Yaung Ni Oo Co., Ltd.)သည်၊ မြေအသုံးချခွင့် ပရီမီယံကြေး အဖြစ် မီးသတ်ဦးစီးဌာနသို့ ပန်းဘဲတန်းမြို့နယ်၊ ၃၂လမ်း ရှိ မြေကွက် အမှတ်(III-၄၆)၊ မြေတိုင်း အမှတ် (၁၆ ဒီ) ရှိ (ပေ၅၀×ပေ၄၀) မြေပေါ်တွင်(၇)ထပ် အဆောက်အဦကို ကျပ် ၃၂၂သိန်းတန် ဆောက်လုပ်ပေးရမည်။ ယင်းအဆောက်အဦ ကို စံချိန်စံညွှန်းများ နှင့်အညီ (၂၄)လအတွင်း ဆောက်လုပ် ပေးရမည်။

၉။ ရောင်နီဦး ကုမ္ပဏီ လီမိတက် (Yaung Ni Oo Co., Ltd.) သည် နှစ်စဉ်မြေငှားရမ်းခ အဖြစ် တစ်စတုရန်းမီတာလျှင် ကျပ်၉၀၀ နှုန်းဖြင့် အသုံးပြုနိုင်သည့် ကြမ်းခင်းဧရိယာ ၁၈၀၆ စတုရန်းမီတာ အတွက် စုစုပေါင်း နှစ်စဉ်ငှားရမ်းခ ကျပ်၁၆.၂၅၄သိန်း ပေးချေရမည်။

၁၀။ နှစ်စဉ်ငှားရမ်းခများကို ဘဏ္ဍာရေးနှစ်အလိုက် နှစ်စဉ်ကြိုတင်ပေးရမည်။ ငှားရမ်းခနှုန်းထားများကို ငါးနှစ် တစ်ကြိမ် ပြန်လည်စိစစ်ရန်နှင့် ထိုသို့စိစစ်ရာတွင် မူလငှားရမ်းခ၏ (၁၅)ရာခိုင်နှုန်းထက် မပိုသော နှုန်းထားဖြင့် ပြန်လည်စိစစ်ရမည်။

၁၁။ ငှားရမ်းကာလ ကုန်ဆုံးသည့်အခါ ရောင်နီဦး ကုမ္ပဏီ လီမိတက် (Yaung Ni Oo Co., Ltd.) သည် မြေနှင့်တကွ အဆောက်အဦ အပါအဝင် အဆောက်အဦ နှင့် ဆက်စပ်ပတ်သက်နေသော ပစ္စည်းအားလုံးကို မွမ်းမံထားရှိပြီးကောင်းမွန်စွာ ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း အငှားချထားသူ (မီးသတ်ဦးစီးဌာန) သို့ အဖိုးစားနားမဲ့ လွှဲပြောင်းပေးရမည်။

၁၂။ ရောင်နီဦး ကုမ္ပဏီ လီမိတက် (Yaung Ni Oo Co., Ltd.) သည်နိုင်ငံခြားသားများ သို့မဟုတ် နိုင်ငံခြား ကုမ္ပဏီများ သို့အခန်းများကို ငှားရမ်းရာတွင် လုပ်ငန်းအတွက် အသုံးပြုခွင့် (Leasehold interest) ကိုသာ ငှားရမ်းရမည်။ ထို့အပြင် ၁၉၈၇ခုနှစ်၊ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများ လွှဲပြောင်းခြင်းကို ကန့်သတ်သည့် ဥပဒေ ပုဒ်မ၅၊ ပုဒ်မခွဲ(က) အရ တစ်ကြိမ်လျှင် တစ်နှစ်ထက်ပို၍ အငှားချထားခြင်း မပြုရသည့်အပြင် အငှားချထားခြင်းခံရသူ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား ကုမ္ပဏီက အခြားတစ်ဦး တစ်ယောက် သို့ ထပ်ဆင့် ငှားရမ်းခြင်း (Sub-Lease) ၊ လွှဲပြောင်းခြင်း (Transfer) တို့ကို ပြုလုပ်ခွင့် မရှိကြောင်း အငှား စာချုပ်တွင်ထည့်သွင်း ချုပ်ဆိုရမည်။

၁၃။ ရင်းနှီးမြှုပ်နှံသူ အနေဖြင့် မြေအသုံးပြုမှု နှင့် ပတ်သက်၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ် ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၄။ ရောင်နီဦး ကုမ္ပဏီ လီမိတက် (Yaung Ni Oo Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့်စပ်လျဉ်း ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များ နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။

၁၅။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၆။ ရောင်နီဦး ကုမ္ပဏီ လီမိတက် (Yaung Ni Oo Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှုထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ဂတိပြုထားသည့် အတိုင်းစံနစ်တကျထားရှိ ဆောင်ရွက်ရမည်။

၁၇။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့်နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး အစီရင်ခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြု လုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟုမှတ်ယူရမည်။

အ မိန့် အ ရ -

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး
[ဝန်ကြီး၊ ဒုတိယ ဝန်ကြီးချုပ်ရုံး]

စာအမှတ်၊ ရက-၁/မ-၁၃၁/၉၇ ( ၁၀၆၃-ည )
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ စက်တင်ဘာလ ၃၀ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့ရုံး။
၃။ ဒုတိယ ဝန်ကြီးချုပ်ရုံး။
၄။ အစိုးရအဖွဲ့ရုံး။
၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၇။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၉။ အလုပ်သမား ဝန်ကြီးဌာန။
၁၀။ လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေး နှင့် ပြန်လည်နေရာချထားရေး ဝန်ကြီးဌာန။
၁၁။ ဥက္ကဋ္ဌ၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ။
၁၂။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၃။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၁၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ မီးသတ် ဦးစီးဌာန။
၂၁။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၂၃။ အုပ်ချုပ်မှုဒါရိုက်တာ၊ ရောင်နီဦး ကုမ္ပဏီ လီမိတက် (Yaung Ni Oo Co., Ltd.)

အ မိန့် အ ရ -

( မောင်မောင်ရီ )
တွဲဖက် အတွင်းရေးမှူး

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ဒုတိယဝန်ကြီး ချုပ်ရုံး
ရန်ကုန်မြို့

စာအမှတ်၊ (ဒု)၀၁၇/ရင်းနှီး/၁(၃၀၉)၊
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ စက်တင်ဘာလ ၄ ရက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့
တင်ပြသည့်အမှတ် ၁၀၁

အကြောင်းအရာ။ ။ ရောင်နီဦးကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ ဟိုတယ်ခန်း၊ ဆိုင်ခန်းနှင့်လူနေအိမ်ခန်းများဆောက်လုပ်၍ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ရောင်နီဦးကုမ္ပဏီလီမိတက်( Yaung Ni Oo Co., Ltd )သည် နိုင်ငံတကာအဆင့်မီဟိုတယ်ခန်း၊ ဆိုင်ခန်းနှင့်လူနေအိမ်ခန်းများ ဆောက်လုပ်၍ ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၂၉-၈-၉၇) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၄/၉၇)ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူညီပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။ ယင်း ဆုံးဖြတ်ချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ဌာနဆိုင်ရာ၏ သဘောထားမှတ်ချက်၊ BOT စနစ်ဖြင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)နှင့် ရှယ်ယာငွေပေးချေခြင်းစနစ်အရ စက်ပစ္စည်းနှင့် ဆောက်လုပ်ရေးပစ္စည်းများဝယ်ယူရန်သဘောတူစာချုပ်(မူကြမ်း)များကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၅) သန်း အပါအဝင်ကျပ် (၁၀၈.၀) သန်းဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ် (၃၅.၂) သန်း၊ အဆောက်အဦတန်ဖိုးကျပ် (၆၉.၈) သန်း၊ စက်ပစ္စည်းကိရိယာနှင့် ဆောက်လုပ်ရေးပစ္စည်းတန်ဖိုးကျပ် (၃.၀) သန်း [ အမေရိကန်ဒေါ်လာ (၀.၅) သန်း ] တို့ကို ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ ဤလုပ်ငန်းအတွက် လိုအပ်သည့် စက်ပစ္စည်းကိရိယာနှင့် ဆောက်လုပ်ရေးပစ္စည်းများကို စင်ကာပူနိုင်ငံ Myanbuilt Pte Ltd မှ ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ်အရ ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုးနှုန်း (၅) ရာခိုင်နှုန်းဖြင့် (၅) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန၊ မီးသတ်ဦးစီးဌာနပိုင် ရန်ကုန်မြို့၊ လမ်းမတော်မြို့နယ်၊ သုန်းကြီးလမ်း၊ မြေကွက်အမှတ်၊ ၁၆၊ ၁၆-က၊ မြေတိုင်းအမှတ် (၂၂ဇက်ဂ) ရှိ မြေ ၀.၀၃၀ ဧက (၁၂၁.၄၀ စတုရန်းမီတာ) ပေါ်တွင် (၈) ထပ်အဆောက်အဦကိုလည်းကောင်း၊ ရန်ကုန်မြို့၊ ပန်းဘဲတန်းမြို့နယ်၊ ၃၂လမ်း၊ မြေကွက်အမှတ် III - ၄၇၊ မြေတိုင်းအမှတ် (၁၆ဒီ ၂)ရှိ မြေ ၀.၀၄၅၉၁ ဧက (၁၈၅.၈၀ စတုရန်းမီတာ) ပေါ်တွင် (၇) ထပ်အဆောက်အဦကိုလည်းကောင်း၊ BOT စနစ်ဖြင့် ငှားရမ်း၍ ရုံးခန်း၊ ဆိုင်ခန်းနှင့်လူနေအိမ်ခန်းများ ဆောက်လုပ်၍ ငှားရမ်းခြင်းလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန၊ မီးသတ်ဦးစီးဌာနနှင့် ရေဝင်နီ ဦးကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် BOT စနစ်ဖြင့် မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း) တွင် ပါဝင်သည့်အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) မြေငှားရမ်းမှုသက်တမ်းမှာ ခေတ်မီ (၈) ထပ်အဆောက်အဦကို မြေနှင့်ပြောင်းလက်ခံရရှိသည့်နေ့မှ (၁၈) လအတွင်း အပြီးတည်ဆောက်ရန်နှင့်ပြီးစီးခြင်းမရှိပါက (၁၈) လပြည့်သည့်နေ့မှစ၍ ကျသင့်သောငှားရမ်းခများကို ပေးသွင်းရန်နှင့်ငှားရမ်းကာလကို (၁၈) လပြည့်သည့်နေ့မှစ၍ ရေတွက်ရမည်ဖြစ်ပါသည်။

(ခ) မြေငှားရမ်းကာလမှာ ကနဦးနှစ်(၃၀)ဖြစ်ပြီး၊ နောက်ထပ်တိုးမြှင့်သက်တမ်း(၅)နှစ်စီဖြင့်(၃)ကြိမ်တိုးမြှင့်ခွင့်ရှိပါသည်။

(ဂ) ခေတ်မီ(၇)ထပ်အဆောက်အဦကို မြေလွှဲပြောင်းလက်ခံရရှိသည့်နေ့မှ(၂၄)လအတွင်း အပြီးတည်ဆောက်ရန်နှင့်ပြီးစီးခြင်းမရှိပါက(၂၄)လပြည့်သည့်နေ့မှစ၍ ကျသင့်သောငှားရမ်းခများကို ပေးသွင်းရန်နှင့်ငှားရမ်းကာလကို (၂၄)လပြည့်သည့်နေ့မှစ၍ ရေတွက်ရမည်ဖြစ်ပါသည်။

(ဃ) မြေအသုံးချခွင့်ပရီမီယံကြေးအဖြစ် ပန်းဘဲတန်းမြို့နယ်၊ ၃၂ လမ်းရှိ (၅၀'x ၄၀') မြေပေါ်တွင်(၇)ထပ်အဆောက်အဦကို ကျပ် ၃၂၂ သိန်းတန် ဆောက်လုပ်ပေးမည်ဖြစ်ပါသည်။ ယင်းအဆောက်အဦတွင်(၁၂.၅'x ၄၀')အကျယ်ရှိအခန်း(၂၈)ခန်းပါရှိမည်ဖြစ်ပြီး၊ စံချိန်စံညွှန်းများနှင့်အညီ(၂၄)လအတွင်း ဆောက်လုပ်ပေးရမည်ဖြစ်ပါသည်။ (တစ်ကေလျှင်ကျပ်သိန်း ၄၃၀၀ နှုန်းခန့်ရှိပါသည်။)

(င) နှစ်စဉ်မြေငှားရမ်းခအဖြစ် တစ်စတုရန်းမီတာလျှင် ကျပ်၉၀၀ နှုန်းဖြင့်အသုံးပြုနိုင်သည့်ကြမ်းခင်းဧရိယာ ၁၁၈၀၆ စတုရန်းမီတာအတွက် စုစုပေါင်းနှစ်စဉ်ငှားရမ်းခကျပ် ၁၀၆.၂၅၄ သိန်းပေးချေရမည်ဖြစ်ပါသည်။

(စ) နှစ်စဉ်ငှားရမ်းခများကို ဘဏ္ဍာရေးနှစ်အလိုက်နှစ်စဉ်ကြိုတင်ပေးချေရန်နှင့် ဒိုင်လုံသောအကြောင်းပြချက်မရှိဘဲ(၃)လအထိ ပျက်ကွက်ပါက ငှားရမ်းခြင်းကို မီးသတ်ဦးစီးဌာနမှ တစ်ဖက်သတ်ရပ်ဆိုင်းပိုင်ခွင့်ရှိပါသည်။

(ဆ) ငှားရမ်းခနှုန်းထားများကို ငါးနှစ်တစ်ကြိမ်ပြန်လည်စိစစ်ရန်နှင့်ထိုသို့ စိစစ်ရာတွင် မူလငှားရမ်းခ၏(၁၅)ရာခိုင်နှုန်းထက်မပိုစေရန် ဖော်ပြထားပါသည်။

(ဇ) ငှားရမ်းကာလကုန်ဆုံးသည့်အခါ မြေနှင့်တကွအဆောက်အဦအပါအဝင်အဆောက်အဦနှင့်ဆက်စပ်ပတ်သက်နေသောပစ္စည်းအားလုံးကို မွမ်းမံထားရှိပြီး၊ ကောင်းမွန်စွာအသုံးပြုနိုင်သည့်အခြေအနေအတိုင်း အဖိုးစားနားမဲ့ မီးသတ်ဦးစီးဌာနသို့ လွှဲပြောင်းပေးရမည်ဖြစ်ပါသည်။

၅။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေနှင့်အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(ကျပ်သိန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၂၉.၂၀ | ၂.၀၀ | ၃၁.၂၀ |
| (ခ) အသုံးစရိတ် | ၁၅.၉၈ | ၀.၇၆ | ၁၆.၇၄ |
| (ဂ) အသားတင်အမြတ် | ၁၃.၂၂ | ၁.၂၄ | ၁၄.၄၆ |

၆။ ဤလုပ်ငန်းမှအဆောက်အဦများကို ပုံမှန်နှစ်တွင် နိုင်ငံခြားငွေဖြင့်ငှားရမ်းနိုင်သည့်နှုန်းကို (၆၀) ရာခိုင်နှုန်းဖြင့်လည်းကောင်း၊ ကျပ်ငွေဖြင့် ငှားရမ်းနိုင်မည့်နှုန်းကို (၃၅) ရာခိုင်နှုန်းဖြင့်လည်းကောင်း ခန့်မှန်းတွက်ချက်ထားပါသည်။ အခန်းငှားခနှုန်းမှာ ပုံမှန်နှစ်တွင် တစ်စတုရန်းမီတာလျှင် နိုင်ငံခြားငွေဖြင့် အမေရိကန်ဒေါ်လာ(၂၀၀) နှုန်းဖြင့်လည်းကောင်း၊ ကျပ်ငွေဖြင့်ကျပ်(၄၂၀၀၀) နှုန်းဖြင့်လည်းကောင်း ငှားရမ်းမည်ဖြစ်ပါသည်။

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) ဝင်ငွေခွန်(အမေရိကန်ဒေါ်လာသန်း) ၀.၀၄
(ကျပ်သိန်း) ၅.၆၇

(ခ) မြေငှားရမ်းခရငွေ (ကျပ်သိန်း) ၁.၆၃

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် ပြည်တွင်းမှဝန်ထမ်း(၈၅)ဦးနှင့် နိုင်ငံခြားမှကျွမ်းကျင်သူဝန်ထမ်း(၅)ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။ နိုင်ငံခြားသားပညာရှင်ဝန်ထမ်းများကို လုပ်ငန်းအဆင်ပြေစွာ ဆောင်ရွက်နိုင်ရေးအတွက် ပထမနှစ်နှင့်ဒုတိယနှစ်များတွင်(၃)လ၊ (၆)လစသည်ဖြင့်အချိန်ပိုင်းသာခန့်ထားမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

၉။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်းနှင့်ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်စေရေးတို့အတွက် ဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်ပေးထားပါသည်။

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီသို့ သဘောထားမှတ်ချက် တောင်းခံရာ ခွင့်ပြုနိုင်ပါကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန်လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များအနက်လုပ်ငန်းနှင့်သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန်ကော်မရှင်မှသို့ အိုင်း ဆုံးဖြတ်ခဲ့ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) ရေခဲနှင့်ဦးကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ ရုံးခန်း၊ ဂိုင်ခန်းနှင့်လူနေတိုက်ခန်းများ ဆောက်လုပ်၍ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ရန်သဘောတူပါက မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၃။ ဒုတိယဝန်ကြီးချုပ်ရုံး၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို ထောက်ခံအပ်ပါသည်။

[ဗိုလ်မှူးချုပ် မောင်မောင်]
ဝန်ကြီး
ဒုတိယဝန်ကြီးချုပ်ရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။



ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့တော်ခန်းမ၊ ရန်ကုန်မြို့

စာအမှတ်၊ ၁၁၉ /၀၂ (၁၈၉၈) / စသက
ရက်စွဲ ၊ ၁၉၉၇ ခုနှစ်၊ ဩဂုတ်လ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ လမ်းမတော်မြို့နယ်တွင် (၈) ထပ်တိုက်နှင့် ပန်းဘဲတန်းမြို့နယ်တွင် ( ၇ ) ထပ်တိုက် အဆောက်အအုံဆောက်လုပ်ရန်ကိစ္စ

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆–၇–၉၇ ရက်စွဲပါစာအမှတ်၊ ၇က–၁/မ–၁၃၁ / ၉၇ (၆၅၀)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍လမ်းမတော်မြို့နယ်၊ ဘုန်းကြီးလမ်း မြေကွက်အမှတ် ( ၁၆, ၁၆ – က ) တွင် ( ၈ ) ထပ်တိုက်နှင့် ပန်းဘဲတန်းမြို့နယ်၊ ၃၂ လမ်းမြေကွက်အမှတ် ၄၆, ၄၇ တွင် ( ၇ ) ထပ်တိုက်အဆောက်အဦးများ ဆောက်လုပ်လို၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ သဘောထားမှတ်ချက် ပြန်ကြားပေးရန်ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ အဆိုပါ ( ၈ ) ထပ်နှင့် ( ၇ ) ထပ်တိုက် အဆောက်အဦးများအား ဖော်ပြပါနေရာများတွင် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီအနေဖြင့်ခွင့်ပြုနိုင်ပါကြောင်းအကြောင်း ပြန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ကျော်ဝင်း၊ အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဌာန
ရုံးလက်ခံ
မျှောစာတွဲ

လျှို့ဝှက်

(၁၇.၂.၉၈) [illegible]

အကြောင်းအရာ။ **မီးသတ်ဦးစီးဌာနပိုင် မြေကွက်အား ရောင်နီဦး ကုမ္ပဏီလီမိတက်သို့ ငှားရမ်း၍ ဆောက်အဦဆက်လက် ဆောက်လုပ်ခွင့်ပြုပါရန်ကိစ္စ။** [illegible]

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရောင်နီဦး ကုမ္ပဏီလီမိတက် အား မီးသတ်ဦးစီးဌာနပိုင်ရန်ကုန်မြို့၊ ဘုန်းကြီးလမ်း မြေကွက်အမှတ် ၁၆၊ ၁၆က တွင် ၄၀' × ၂၅.၇၅' (၁) ထပ် ဆောက်အဦ ဆောက်လုပ်ရန်လည်းကောင်း၊ ပန်းဘဲတန်းမြို့နယ် ၃၂ လမ်း ၊ မြေကွက်အမှတ် III/၄ ၇ တွင် ၁၂.၅' × ၄၀' (၇) ထပ် အဆောက်အဦ ဆောက်လုပ်၍၊ လုပ်ငန်း ဆောင်ရွက်ရန် ၃၀-၉-၉၇ နေ့စွဲပါ ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၉၀/၉၇ ဖြင့်ခွင့်ပြုခဲ့ပါသည်။

၂။ ရောင်နီဦး ကုမ္ပဏီလီမိတက်မှ ဆောက်လုပ်မည့် ဆောက်အဦများတွင် ဆောက်ရန် မြေငှားရမ်းမှုအတွက် မြေအသုံးချမှုပရီမီယံကြေး အဖြစ် မီးသတ်ဦးစီးဌာနသို့ ပန်းဘဲတန်းမြို့နယ်၊ ၃၂လမ်း မြေကွက်အမှတ် III/၄၆ တွင် ၁၂.၅' × ၄၀' (၇) ထပ် အဆောက်အဦတစ်လုံး ကိုကျပ် ၃၂၂ သိန်း ဖြင့် ဆောက်လုပ်ပေးရန်ဖြစ်ပါသည်။

၃။ သို့ရာတွင် ၁၀-၁၂-၉၇ နေ့တွင်ကျင်းပခဲ့သော အစိုးရအဖွဲ့အစည်းအဝေး လမ်းညွှန်ချက်အရ မြေအသုံးချမှုပရီမီယံကြေး ကိုနိုင်ငံတော်၏ Central Fund သို့ပေးသွင်းရမည်ဖြစ်ပါသည်။ သို့ပါ၍ ကော်မရှင်မှခွင့်ပြုခဲ့သည့်ဌာနဆိုင်ရာ နှင့်အကျိုးတူပူးပေါင်း ဆောင်ရွက်လျက်ရှိသည့်၊ လုပ်ငန်းများ သို့ဌာနအတွက် ဆောင်ရွက်ပေးရမည့်လုပ်ငန်းများအား ရပ်ထားစေရန်အကြောင်းကြား၍ ဆောင်ရွက်ပြီးစီးမှုများ ရှိပါကပြီးစီးမှုအခြေအနေ၊ ကုန်ကျစရိတ်များနှင့် မည်သို့ဆက်လက် ဆောင်ရွက်လိုသည်ကိုသုံးသပ်ချက် ပြန်ကြားရန်အကြောင်းကြားခဲ့ပါသည်။

၄။ ရောင်နီဦး ကုမ္ပဏီလီမိတက်မှ မီးသတ်ဦးစီးဌာနအတွက်တည်ဆောက်ပေး ရမည့်အဆောက်အဦမှာ ယခုအခါ ၁၂.၃ ရာခိုင်နှုန်း တန်ဖိုးအားဖြင့် - ကျပ် ၃၉၅၉၇၂၀/- ကုန်ကျပြီးဖြစ်ကြောင်း တင်ပြလာပါသည်။

၅။ ကုမ္ပဏီ၏အဆောက်အဦများ မှာဘုန်းကြီးလမ်းတွင် ၂၃.၇ ရာခိုင်နှုန်း တန်ဖိုးအားဖြင့်ကျပ် ၁၅.၃၅ သိန်း နှင့် ၃၂လမ်းတွင် ၁၄.၃ ရာခိုင်နှုန်းတန်ဖိုးအား ဖြင့်ကျပ် ၄၀.၃၀ သိန်းဖိုးပြီးစီးဖြစ်ပါကြောင်း ဖော်ပြထားပါသည်။

၆။ လုပ်ငန်းဆက်လက်ဆောင်ရွက်နိုင်ရန် ကော်မရှင်မှလမ်းညွှန်မှုပြုပါရန် တင်ပြလာခြင်းဖြစ်ပါသည်။

လျှို့ဝှက်

(၃.၈.၉၈) ၃/၉၈ အထူးအစည်းအဝေးအရ
[illegible] အတည်ပြုသည်

လျှို့ဝှက်

အကြောင်းအရာ။ **မီးသတ်ဦးစီးဌာနပိုင် မြေကွက်အား ရောင်နီဦး ကုမ္ပဏီလီမိတက်သို့ ငှားရမ်း၍ အဆောက်အဦဆက်လက် ဆောက်လုပ်ခွင့်ပြုပါရန်ကိစ္စ။**

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရောင်နီဦး ကုမ္ပဏီလီမိတက်အား မီးသတ်ဦးစီးဌာနပိုင်ရန်ကုန်မြို့၊ ဘုန်းကြီးလမ်း မြေကွက်အမှတ် ၁၆၊ ၁၆က တွင် ၅၀' × ၂၅.၇၅' (၈) ထပ်အဆောက်အဦ ဆောက်လုပ်ရန်လည်းကောင်း၊ ပန်းဘဲတန်းမြို့နယ် ၃၂လမ်း၊ မြေကွက်အမှတ် III၄၇ တွင် ၁၂.၅' × ၄၀' (၇) ထပ် အဆောက်အဦ ဆောက်လုပ်၍၊ လုပ်ငန်းဆောင်ရွက်ရန် ၃၀-၆-၉၇ နေ့စွဲပါ ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၉၈/၉၇ဖြင့် ခွင့်ပြုခဲ့ပါသည်။

၂။ ရောင်နီဦး ကုမ္ပဏီလီမိတက်မှ အထက်ပါအဆောက်အဦများ တည်ဆောက်ရန် မြေငှားရမ်းမှုအတွက် မြေအသုံးချမှုပရီမီယံကြေး အဖြစ် မီးသတ်ဦးစီးဌာနသို့ ပန်းဘဲတန်းမြို့နယ်၊ ၃၂လမ်း မြေကွက်အမှတ် III၄၆ တွင် ၁၂.၅' × ၄၀' (၇) ထပ် အဆောက်အဦတစ်လုံး ကိုကျပ် ၃၂၂သိန်း ဖြင့် ဆောက်လုပ်ပေး ရန်ဖြစ်ပါသည်။

၃။ သို့ရာတွင် ၁၈-၁၂-၉၇ နေ့တွင်ကျင်းပခဲ့သော အစိုးရအဖွဲ့အစည်းအဝေး လမ်းညွှန်ချက်အရ မြေအသုံးချမှုပရီမီယံကြေး ကိုနိုင်ငံတော်၏ Central Fund သို့ ပေးသွင်း ရမည်ဖြစ်ပါသည်။ သို့ပါ၍ ကော်မရှင်မှ ခွင့်ပြုခဲ့သည့် [illegible] နှင့်အကျိုးတူပူးပေါင်း ဆောင်ရွက်လျက်ရှိသည့် လုပ်ငန်းများ သို့ငှား[illegible] ဆောင်ရွက်ပေး ရမည့်လုပ်ငန်း များအား ရပ်ထား စေရန်အကြောင်းကြား၍ ဆောင်ရွက်ပြီး [illegible] မည်သို့ဆက်လက် ဆောင်ရွက်လိုသည်ကိုညှိနှိုင်း ပြန်ကြား ရန်အကြောင်းကြား ခဲ့ပါသည်။

၄။ ရောင်နီဦး ကုမ္ပဏီလီမိတက်မှ မီးသတ်ဦးစီးဌာနအတွက်တည်ဆောက်ပေး ရမည့်အဆောက်အဦမှာ ယခုအခါ ၁၂.၃ ရာခိုင်နှုန်း တန်ဖိုး အားဖြင့် ကျပ် ၃၉၅၉၇၂၀/- ကုန်ကျပြီး ဖြစ်ကြောင်း တင်ပြလာပါသည်။

၅။ ကုမ္ပဏီ၏အဆောက်အဦများ မှာ ဘုန်းကြီး လမ်းတွင် ၂၃.၇ ရာခိုင်နှုန်း တန်ဖိုးအားဖြင့်ကျပ် ၈၅.၃၅သိန်းနှင့် ၃၂လမ်းတွင် ၁၄.၃ ရာခိုင်နှုန်းတန်ဖိုးအားဖြင့် ကျပ် ၄၈.၃၈သိန်း ဖိုးပြီးစီးဖြစ်ပါကြောင်း ဖော်ပြထား ပါသည်။

၆။ လုပ်ငန်းဆက်လက် ဆောင်ရွက်နိုင်ရန် ကော်မရှင်မှလမ်းညွှန်မှုပြုပါရန် တင်ပြလာခြင်း ဖြစ်ပါသည်။

လျှို့ဝှက်

(၂၂.၈.၉၇)ရ. ၁၁/၉၇ ကို/ညှိ မှတ်တမ်း



| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန်<br>သိသာဝရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၅။ | ရောင်နီဦး ကုမ္ပဏီလီမိတက် ( Yaung Ni Oo Co., Ltd. ) မှ နိုင်ငံတကာအဆင့်မီရုံးခန်း၊ ဆိုင်ခန်းနှင့်လူနေအိမ်ခန်းများ ဆောက်လုပ်၍ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။<br><br>ဖွဲ့ဖက်အတွင်းရေးမှူး ဦးမောင်မောင်ရီက ရောင်နီဦး ကုမ္ပဏီလီမိတက် မှ နိုင်ငံတကာအဆင့်မီရုံးခန်း၊ ဆိုင်ခန်းနှင့်လူနေအိမ်ခန်းများ ဆောက်လုပ်၍ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြချက်ကို ၂၀-၇-၉၇ နေ့တွင်ကျင်းပခဲ့သည့် ကော်မရှင်၏ ၁၃/၉၇ ကြိမ်မြောက်ညှိနှိုင်းအစည်းအဝေးမှ B.O.T စနစ်ဖြင့် ဆောင်ရွက်ရန်ဆုံးဖြတ်ချက်အရ ပြန်လည်တင်ပြခြင်းဖြစ်ပါကြောင်းနှင့် အဆိုပြုလုပ်ငန်း၏ အဓိကအချက်အလက်များကို ရှင်းလင်းတင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ်၊ ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင်က စုစုပေါင်း မြေအကျယ်အဝန်းမှာ ၁၀.၀၇၈ဧက (၃၀၆စတုရန်းမီတာ) သာရှိကြောင်း၊ မြေအသုံးချမှုပရီမီယံကြေးမှာ ကျပ် ၄၇၂သိန်း ပေးထားသည်ကို တွေ့ရှိရကြောင်း၊ ယခင်ခွင့်ပြုခဲ့သည့်လုပ်ငန်းများ ထက်ပိုပေးသည်ကို တွေ့ရကြောင်း၊ မြေငှားရမ်းခနှင့်စပ်လျဉ်း၍ SN ကုမ္ပဏီမှ တစ်စတုရန်းမီတာလျှင် ကျပ် ၉၀၀ နှုန်းဖြင့်တွက်ချက်ခဲ့ပါကြောင်း၊ ရန်ကုန်မြို့လယ်နေရာတွင်ခွင့်ပြုခဲ့သောလုပ်ငန်းမှာမူ တစ်စတုရန်းမီတာလျှင် ကျပ် ၁၁၂၅ ရှိခဲ့ကြောင်း၊ ထို့ကြောင့်ယခုအဆိုပြုလုပ်ငန်းမှ နှစ်စဉ်ငှားရမ်းခကို တစ်စတုရန်းမီတာလျှင်ကျပ် ၉၀၀ ဖြင့်တွက်ချက်သင့်ကြောင်း၊ ထို့ကြောင့် မြေအသုံးချမှုပရီမီယံကြေးနှင့် မြေငှားရမ်းခကို ပြန်လည်ညှိနှိုင်းသင့်ကြောင်း ပြောကြားပါသည်။<br><br>အတွင်းရေးမှူး ဗိုလ်မှူးချုပ်မောင်မောင်က ငှားရမ်းခရငွေမှာ သေချာမှုရှိပါကြောင်း၊ Land Use Premium မှာ အဆောက်အဦတန်ဖိုးတွင်ထည့်ဝင်ထားခြင်းဖြစ်ပါကြောင်းတင်ပြပါသည်။ | |

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| | ဒုတိယဝန်ကြီးချုပ် ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင် ကတည်ဆောက်မှုကာလအတွင်း Mixer (တစ်) စီး၊ Tipper (တစ်) စီးနှင့် Truck (တစ်) စီး တို့ကိုအခွန်အကောက်ကင်း လွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်မှုကာလအတွင်း Mixer (တစ်) စီး၊ Tipper (တစ်) စီးနှင့် Truck (တစ်) စီး တို့ကိုအခွန်အကောက် ၅၀ % သက်သာခွင့်ဖြင့် လည်းကောင်း တင်သွင်းခွင့်ပြုသင့်ကြောင်း Audio Visual Equipment ပစ္စည်းများကိုပြန်လည်တင်ပြရန် ပြောကြားပါသည်။<br><br>ဝန်ကြီးချုပ်ရုံး ဝန်ကြီး ဗိုလ်မှူးချုပ်လွန်းမောင်က လုပ်ငန်းအတွက်အမှန်တကယ်လိုအပ်သောလုပ်ငန်းသုံးယာဉ်များကိုသာခွင့်ပြုသင့်ကြောင်း တင်ပြပါသည်။<br><br>ဆုံးဖြတ်ချက်<br><br>(၁) ရေခင်နီဦး ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ ရုံးခန်း၊ ဆိုင်ခန်းနှင့် လူနေအိမ်ခန်းများ ဆောက်လုပ်၍ငှားရမ်းခြင်းလုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြချက်ကို မူအားဖြင့်သဘောတူကြောင်း၊<br>(၂) မြေငှားရမ်းခကိုတစ်နှစ်လျှင်တစ်စတုရန်းမီတာလျှင်ကျပ် ၉၀၀ ဖြင့်ပြန်လည်ညှိနှိုင်းရန်၊<br>(၃) မြေအသုံးချမှုပရီမီယံ ကြေးကိုပြန်လည်ညှိနှိုင်းရန်၊<br>(၄) မော်တော်ယာဉ်တင်သွင်းမှုနှင့်ပတ်သက်၍ လုပ်ငန်းတည်ဆောက်မှုကာလအတွင်း Mixer (တစ်) စီး၊ Tipper (တစ်) စီးနှင့် Truck | <br><br><br><br><br><br><br><br>အတွင်းရေးမှူး လူမှုဝန်ထမ်းကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန။-န<br>မိုးသက်ဦးစီးဌာန။ |

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန်သီသာဝန် |
|---|---|---|
| ၁ | ၂ | ၃ |
| | (တစ်) စီး တို့ကိုအခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်မှုကာလအတွင်း Mixer (တစ်) စီး၊ Tipper (တစ်) စီးနှင့် Truck (တစ်) စီးတို့ကိုအခွန်အကောက် ၅၀ % ယက်သာခွင့်ဖြင့်လည်းကောင်း တင်သွင်းခွင့်ပြုရန် Audio Visual Equipment - များကိုပြန်လည်တင်ပြရန်၊<br>(၅) အထက်ပါအချက်များ ကိုပြန်လည်ညှိနှိုင်းပြင်ဆင်ပြီး ပါကကော်မရှင်အစည်းအဝေး သို့ဆက်လက်တင်ပြရန်၊ | |

(၂၂.၈.၉၇) ၁၁/၉၇ ကို/ဆွေ



လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အဓိကအချက်များ
(မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ )

| | | |
|---|---|---|
| ၁ | အမည် | - ရောင်နီဦး ကုမ္ပဏီလီမိတက်<br>(Yaung Ni Oo Co., Ltd.)<br>(မြန်မာကုမ္ပဏီ၊ ၅-၃-၉၁ နေ့တွင်ကုမ္ပဏီမှတ်ပုံတင်ပြီး ) |
| ၂ | လုပ်ငန်း အဆိုပြုသူအမည်<br>လက်ရှိလုပ်ငန်း | - ဦး အောင်ဝင်း<br>- ဆောက်လုပ်ရေး နှင့်အထွေထွေကုန်ပစ္စည်း ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၃ | အဆိုပြုလုပ်ငန်း အမျိုးအစား | - နိုင်ငံ[illegible] ခန်း ၊ ဆိုင်ခန်းနှင့် လူနေအိမ်ခန်း များ ဆောက်လုပ်၍ငှား ရမ်း ခြင်း လုပ်ငန်း ၊<br>ဘုန်းကြီး လမ်း ၈-ထပ်အ ဆောက်အဦ<br>၃၂လမ်း ၇-ထပ်အ ဆောက်အဦ |
| ၄ | တည်နေရာ | - မြေကွက်အမှတ် ၁၆၊ ၁၆-က၊ မြေတိုင်းအမှတ် (၂၂ဇက်[၁])<br>ဘုန်းကြီး လမ်း ၊ လမ်း မတော်မြို့နယ်၊ ရန်ကုန်မြို့။<br>- မြေကွက်အမှတ် III -၄၇၊ မြေတိုင်း အမှတ် (၁၆ဒီ[၂]) ၊ ၃၂လမ်း ၊ ပန်းဘဲတန်း မြို့နယ်၊ ရန်ကုန်မြို့။ |
| ၅ | စုစုပေါင်း ရင်းနှီး မြှုပ်နှံမှု<br>- ငွေပမာဏ<br>- အဆောက်အဦ<br>- စက်ပစ္စည်း ကိရိယာနှင့် ဆောက်လုပ်ရေး ပစ္စည်း | - ကျပ် ၁၂၃.၀ သန်း( US $ ၀.၅၀သန်း အပါအဝင် )<br>ကျပ် ၂၀.၀ သန်း<br>ကျပ် ၁၀၀.၀ သန်း<br>ကျပ် ၃.၀ သန်း ( US $ ၀.၅၀သန်း) |
| ၆ | မြေ[illegible] [illegible] | |
| | - မြေအကျယ်အဝန်း | - ဘုန်းကြီး လမ်း ၀.၀၃၀ဧက( ၁၂၁.၄၀ စတုရန်း မီတာ)<br>- ၃၂လမ်း ၀.၀၄၅၀၉ဧက( ၁၈၅.၇၅ စတုရန်း မီတာ) |

| | | |
|---|---|---|
| ၁၀ | ငှားရမ်းမည့်နှုန်း<br>(တစ်စတုရန်းမီတာ)<br>-နိုင်ငံခြားငွေဖြင့်<br>-ကျပ်ငွေဖြင့် | <u>ပုံမှန်နှစ်</u><br><br>US $ ၂၀၀<br>ကျပ် ၄၂၀၀၀ |
| ၁၁ | ဝင်ငွေ<br><br>-နိုင်ငံခြားငွေဖြင့်<br>-ကျပ်ငွေဖြင့် | <u>ပုံမှန်နှစ်</u><br><br>US $ ၀.၃၃ သန်း<br>ကျပ် ၂၈.၂၀ သန်း |
| ၁၂ | အသားတင်အမြတ်<br>-နိုင်ငံခြားငွေဖြင့်<br>-ကျပ်ငွေဖြင့် | <u>ပုံမှန်နှစ်</u><br>US $ ၀.၂၁ သန်း<br>ကျပ် ၁၇.၂၄ သန်း |
| ၁၃ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့်<br>အကျိုးအမြတ်<br>-ဝင်ငွေခွန်<br>-နိုင်ငံခြားငွေဖြင့်<br>-ကျပ်ငွေဖြင့် | <br><br><br>US $ ၀.၀၃ သန်း<br>ကျပ် ၂.၈၇ သန်း |
| ၁၄ | တည်ဆောက်မှုကာလ | ၁ အပိုင်း ဆောက်ဦး ၁၀ လ<br>၇ အပိုင်း ဆောက်ဦး ၂၄ လ |
| ၁၅ | ဝန်ထမ်းအင်အား<br>-ပြည်တွင်း<br>-ပြည်ပ | <u>၉၀ ဦး</u><br>၈၅ ဦး<br>၅ ဦး |
| ၁၆ | အခြား | - စက်ပစ္စည်း ကိရိယာနှင့် ဆောက်လုပ်ရေးပစ္စည်းများကို စင်ကာပူနိုင်ငံ၊ - Myanbuilt Pte Ltd. မှ ငွေထိုင်း ငွေ ပေးချေခြင်း စနစ်အရ ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုးနှုန်း (၅) ရာခိုင်နှုန်းဖြင့် (၅) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။ |

- စက်ပစ္စည်း စာရင်းတွင် Mini Bus (၂) စီး၊ Truck (၂) စီး၊ Saloon (၃) စီး တန်ဖိုးများ ပါဝင်ပါသည်။ ထို့အပြင် လုပ်ငန်းသုံး Mixer Truck (၂) စီး၊ Tipper (၂) စီး နှင့် Audio visual equipment US $ ၁၀၀၀၀ ဖိုး ပါဝင်ပါသည်။

- ခေတ်မီ (၈) ထပ်အဆောက်အဦကို မြေလွှဲပြောင်း လက်ခံရရှိသည့်နေ့မှ (၁၈) လအတွင်း အပြီး တည်ဆောက်ရန်နှင့် ပြီးစီးခြင်း မရှိပါက (၁၈) လပြည့်သည့်နေ့မှ စ၍ ကျသင့်သော ငှားရမ်းခများကို ပေးသွင်းရန် နှင့် ငှားရမ်းကာလကို (၁၈) လပြည့်သည့်နေ့မှ စ၍ နှစ် ၃၀ ရေတွက်ရမည်ဖြစ်ပါသည်။ (မြေငှား စာချုပ် [မူကြမ်း] အပိုဒ် ၂(ခ)

- ခေတ်မီ (၇) ထပ်အဆောက်အဦကို မြေလွှဲပြောင်း လက်ခံရရှိသည့်နေ့မှ (၂၄) လအတွင်း အပြီး တည်ဆောက်၍ ပြီးစီးခြင်း မရှိပါက (၂၄) လပြည့်သည့်နေ့မှ စ၍ ကျသင့်သော ငှားရမ်းခများကို ပေးသွင်းရန်နှင့် ငှားရမ်းကာလကို (၂၄) လပြည့်သည့်နေ့မှ စ၍ နှစ် (၃၀) ရေတွက်ရမည်ဖြစ်ပါသည်။ [မြေငှား စာချုပ် (မူကြမ်း) အပိုဒ် ၂(ဂ)]

- နှစ်စဉ်ငှားရမ်းခများကို ဘဏ္ဍာရေးနှစ် [illegible] ကြိုတင် ပေးချေရန်နှင့် [illegible] သောအကြောင်း ပြချက်မရှိဘဲ (၃) လ အထိ ပျက်ကွက်ပါက ငှားရမ်းခြင်းကို သိမ်း သက်ဦးစီး ဌာနမှ တစ်ဖက်သတ် ရပ်ဆိုင်းခွင့်ရှိပါသည်။ [မြေငှား စာချုပ် (မူကြမ်း) အပိုဒ် ၄.၂ နှင့် ၅ ]

- ငှားရမ်းခနှုန်းထားများကို ငါးနှစ်တစ်ကြိမ် ပြန်လည်စိစစ်ရန်နှင့် ထိုသို့စိစစ်ရာတွင် မူလငှားရမ်းခ၏ (၁၅) ရာခိုင်နှုန်းထက်မပိုစေရန် ဖော်ပြထားပါသည်။ [မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၄-၃]
- ရေခင်နံဦး ကုမ္ပဏီလီမိတက်သည် အခန်းများကို နိုင်ငံခြားသား (သို့မဟုတ်) နိုင်ငံခြားသားပိုင်ကုမ္ပဏီများသို့ တစ်နှစ်ထက်ကျော်လွန်သောကာလများအတွက် ထပ်ဆင့်ငှားရမ်းမည်ဆိုပါက ၁၉၈၇ ခုနှစ် မရွှေ့မပြောင်းနိုင်သောပစ္စည်းများ လွှဲပြောင်းခြင်းကို ကန့်သတ်သည့်ဥပဒေ ပုဒ်မ (၁၄) အရ သက်ဆိုင်ရာဝန်ကြီးဌာနက ထုတ်ပြန်သော ဥပဒေပြဌာန်းချက်များမှ ကင်းလွတ်ခွင့်ပြုသည့်အမိန့် ရရှိပြီးဖြစ်ရန် မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၇(ဂ) တွင် ဖော်ပြထားပါသည်။
- ငှားရမ်းကာလနှစ် (၃၀) ကုန်ဆုံးသည့်အခါ မြေနှင့်တကွ အဆောက်အဦအပါအဝင် အဆောက်အဦနှင့်ဆက်စပ်ပတ်သက်နေသော ပစ္စည်းအားလုံးကို မွမ်းမံထားရှိပြီး ကောင်းမွန်စွာအသုံးပြုနိုင်သည့် အခြေအနေအတိုင်း အဖိုးစားနားမဲ့ မီးသတ်ဦးစီးဌာနသို့ လွှဲပြောင်းပေးရမည်ဖြစ်ပါသည်။ [မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၉]
- ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်ပေးထားပါသည်။

- ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီသို့ သဘောထား မှတ်ချက် တောင်းခံရာ ခွင့်ပြုနိုင်ပါကြောင်း အကြောင်း ပြန်ကြားလာပါသည်။

- ဤအဆိုပြုချက်ကို (၂၀-၇-၉၇) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်း နှီး မြှုပ်နှံမှုကော်မရှင်၏ (၁၃/၉၇) ကြိမ်မြောက်ကြိုတင်သုံးသပ်ခြင်း အစည်းအဝေး သို့တင်ပြခဲ့ရာ B O T စနစ်ဖြင့် ဆောင်ရွက်ရန် ပြန်လည်သုံးသပ်ခြင်း ပြီး ကော်မရှင်သို့တင်ပြရန်ဆုံးဖြတ်ချက်အရပြန်လည်တင်ပြလာခြင်း ဖြစ်ပါသည်။

၁၄/၉၇ ကော်မရှင်
မှတ်တမ်း (၂၆.၈.၉၇)



| အမှတ်စဉ် | ဆွေး နွေး ချက်နှင့်ညှိနှိုင်း ဆုံး ဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၆။ | <u>ရောင်နီဦး ကုမ္ပဏီလီမိတက် ( Yaung Ni Oo Co., Ltd. ) မှ နိုင်ငံတကာအဆင့်မီ ရုံး ခန်း၊ ဆိုင်ခန်းနှင့်လူ နေအိမ်ခန်းများ ဆောက် လုပ်၍ ငှား ရမ်း ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။</u><br><br>ကော်မရှင်၏ ၂၆-၈-၉၇ ရက်စွဲပါစာအမှတ်၊ ရက- ၆(ခ)/၇၈၀/၉၇(၈၆၁)။<br><br>ဖွဲ့ဖက်အတွင်း ရေး မှူး ဦး မောင်မောင်ဝိက အစမှ အဆုံး ကိုရှင်း လင်း တင်ပြပါသည်။<br><br>ဒုတိယဝန်ကြီး ချုပ်၊ ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင် က မြန်မာကုမ္ပဏီဖြစ် သော ရောင်နီဦးကုမ္ပဏီလီမိတက်သည်လုပ်ငန်း ဆောင် ရွက်ရန်လုပ်ငန်း သက်တမ်း ကာလကိုနှစ် (၃၀) သာတင်ပြ တောင်း ခံထား ရာအများ နည်းတူဖြစ်သင့်ပါကြောင်း၊ သို့ဖြစ်ပါ၍ ကနဦး ငှား ရမ်းကာလ နှစ် (၃၀) နှင့် နောက်ထပ် (၅) နှစ်သုံး ကြိမ်တိုး ချဲ့ခွင့်ပြုသင့်ပါကြောင်း ပြောကြား ပါသည်။<br><br><u>ဆုံး ဖြတ် ချက်</u><br><br>- ရောင်နီဦး ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ ရုံး ခန်း၊ ဆိုင်ခန်းနှင့်လူ နေအိမ်ခန်း များ ဆောက် လုပ်၍ ငှား ရမ်း ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စကိုမူအား ဖြင့်သ ဘောတူကြောင်း နှင့်အစိုး ရအဖွဲ့သို့ဆက်လက်တင်ပြရန်၊<br>- လုပ်ငန်း သက်တမ်း ကာလကိုကနဦး နှစ် (၃၀) နှင့် နောက်ထပ်တိုး ချဲ့သက်တမ်း (၅) နှစ်သုံး ကြိမ်ခွင့်ပြု ရန်၊ | အတွင်းရေး မှူး၊ လူမှုဝန်ထမ်း၊ ကယ်ဆယ် ရေး နှင့်ပြန်လည်နေ ရာချထားရေး ဝန်ကြီးဌာန |

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/၇၈၀/၉၇(၈၆၁)။
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဩဂုတ်လ ၂၆ ရက်

အမှာစာ

အကြောင်းအရာ။ ။ ယောင်နီဦးကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီရုံးခန်း ဆိုင်ခန်း နှင့်လူနေအိမ်ခန်း များ ဆောက်လုပ်၍ ငှား ရမ်းခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ယောင်နီဦး ကုမ္ပဏီ လီမိတက်(Yaung Ni Oo Co., Ltd )သည် နိုင်ငံတကာအဆင့်မီရုံး ခန်း ၊ ဆိုင်ခန်း နှင့်လူနေအိမ်ခန်းများ ဆောက်လုပ်၍ငှား ရမ်း ခြင်း လုပ်ငန်း ကိုမြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာ ပါသည်။ ယင်း အဆိုပြုချက်ကို၂၂-၈-၉၇ နေ့တွင်ကျင်း ပပြုလုပ်သည့်မြန်မာနိုင်ငံရင်း နှီး မြှုပ်နှံမှုကော်မရှင်၏ (၁၅/၉၇) ကြိမ်မြောက်ကြိုတင်ညှိနှိုင်း အစည်း အဝေး သို့တင်ပြခဲ့ရာယင်း အစည်း အဝေးမှအောက်ပါအတိုင်း ဆုံး ဖြတ်ခဲ့ပါသည်။

(က) လုပ်ငန်း ဆောင်ရွက်ရန်မူအား ဖြင့်သဘောတူကြောင်း ၊

(ခ) နှစ်စဉ်မြေငှား ရမ်း ခကိုအသုံး ပြုနိုင်သောကြမ်း ပြင်ဧရိယာ (၁၈၀၆) စတုရန်း မီတာအတွက်တစ်နှစ်လျှင်တစ်စတုရန်း မီတာကိုကျပ် ၉၀၀ နှုန်း ဖြင့်စုစုပေါင်း ကျပ် ၁၆.၂၅၄ သိန်း ပေး ချေရန်၊

(ဂ) မြေအသုံး ချခွင့်ပေး ငွေအဖြစ်အကျယ်အဝန်း (၅၀'×၄၀') ရှိ(၄) ခန်း တွဲခုနှစ်ထပ်တိုက်အဆောက်အဦတစ်လုံး ၏တန်ဖိုး ကိုပြန်လည်ညှိနှိုင်း တင်ပြရန်၊

လျှို့ဝှက်

(ဃ) အထက်ပါအချက်များ ကိုညှိနှိုင်း ပြီး ပြန်လည်တင်ပြလာသည့်အခါ၊ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ဆက်လက်တင် ပြရန်ဆုံး ဖြတ်ခဲ့ပါသည်။

အထက်ပါဆုံး ဖြတ်ချက်များ အပေါ် ညှိနှိုင်း ပြင်ဆင်၍ ပြန်လည်တင်ပြလာပါသဖြင့်မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်အစည်း အဝေး သို့ဆက်လက်တင် ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ငှားရမ်းချိန်ဝုံး ...သဘောတူ ထား မှတ်ချက်၊ B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)၊ ရှယ်ယာ... ငွေပေး ချေခြင်း စနစ် အရ စက်ပစ္စည်း နှင့်ဆောက်လုပ်ရေး ပစ္စည်း များ ဝယ်ယူရန်သဘောတူစာချုပ် (မူကြမ်း) နှင့်ငွေရေး ကြေး ရေး ဆိုင်ရာ ဆောက်အထား များ ကိုနောက်ဆက်တွဲ(၁) တွင်တင်ပြထား ပါသည်။

၂။ ဤလုပ်ငန်း ၏မတည်ငွေရင်း ပမာဏမှာအမေရိကန်ဒေါ်လာ(၀.၅) သန်း အပါအဝင်ကျပ်(၁၀၀.၀) သန်း ဖြစ်ပါသည်။ ယင်း တွင် ငွေသား ကျပ်(၃၅.၂) သန်း၊ ဆောက်အဦတန်ဖိုး ကျပ်(၆၁.၈) သန်း၊ စက်ပစ္စည်း ကိရိယာ နှင့် ဆောက်လုပ်ရေး ပစ္စည်း တန်ဖိုး ကျပ်(၃.၀) သန်း [အမေရိကန်ဒေါ်လာ (၀.၅) သန်း] တို့ကို ထည့်ဝင်ရင်း နှီး မည်ဖြစ်ပါသည်။ လုပ်ငန်း အတွက်လိုအပ်သည့်စက်ပစ္စည်း ကိရိယာ နှင့် ဆောက်လုပ်ရေး ပစ္စည်း များ ကိုစင်ကာပူနိုင်ငံ Myanbuilt Pte. Ltd. - မှ အရစ်ကျ ငွေပေး ချေခြင်း စနစ်အရ ဝယ်ယူမည်ဖြစ်ပြီး အတိုး နှုန်း(၅) ရာခိုင်နှုန်း ဖြင့်(၅) နှစ်အတွင်း ပြန်လည်ပေး ဆပ်ရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်း ကိုလူမှုဝန်ထမ်း ၊ ကယ်ဆယ်ရေး နှင့်ပြန်လည်နေရာ ချထား ရေး ဝန်ကြီး ဌာန၊ ... ရန်ကုန်မြို့၊ လမ်း မတော်မြို့နယ်၊ ... ကွင်း ၊ မြေကွက်အမှတ် ၁၆၊ ၁၆-က၊ မြေတိုင်း အမှတ်(၂၂ ဇက်ဝ)ရှိ မြေ ၀.၀၃၀ ဧက(၁၂၁.၄၀ စတုရန်း မီတာ) ပေါ်တွင်(၈) ထပ်အဆောက်အဦ ကိုလည်း ကောင်း၊ ရန်ကုန်မြို့၊ ပန်းဘဲတန်း မြို့နယ်၊ ၃၂ လမ်း ၊ မြေကွက်အမှတ် III-၄၇၊ မြေတိုင်း အမှတ်(၁၆ ဒီ၂)ရှိ မြေ ၀.၀၄၅၆ ဧက(၁၈၅.၀၀ စတုရန်း မီတာ)ပေါ်တွင် (၈) ထပ်အဆောက်အဦကိုလည်း ကောင်း၊ B.O.T စနစ်ဖြင့်နှစ်(၃၀) ငှား ရမ်း၍ ရုံး ခန်း ၊ ဆိုင်ခန်း နှင့်လူနေတိုက်ခန်း များ ဆောက်လုပ်၍ငှား ရမ်း ခြင်း လုပ်ငန်း ကိုဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းကိုဆောင်ရွက်ရန်အတွက်လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန၊ ဗိုလ်မှူးသက်ဦး၊ ဝီးဌာနနှင့်ရောင်နီဦး ကုမ္ပဏီလီမိတက်တို့ချုပ်ဆိုမည့် BOT စနစ်ဖြင့်မြေငှားရမ်းခြင်းသဘောတူစာချုပ် ( မူကြမ်း ) တွင်ပါဝင်သည့်အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) ငှားရမ်းမှုသက်တမ်းမှာ ခေတ်မီ ( ဂ ) ထပ်အဆောက်အဦကို မြေလွှဲပြောင်းလက်ခံရရှိသည့်နေ့မှ ( ၁၈ ) လအတွင်းအပြီးတည်ဆောက်ရန်နှင့်ပြီးစီးခြင်းမရှိပါက ( ၁၈ ) လပြည့်သည့်နေ့မှစ၍ကျသင့်သောငှားရမ်းခများကိုပေးသွင်းရန်နှင့်ငှားရမ်းကာလကို ( ၁၈ ) လပြည့်သည့်နေ့မှစ၍နှစ်(၃၀) ရေတွက်ရမည်ဖြစ်ပါသည်။

(ခ) ခေတ်မီ ( ၇ ) ထပ်အဆောက်အဦကိုမြေလွှဲပြောင်းလက်ခံရရှိသည့်နေ့မှ ( ၂၄ ) လအတွင်းအပြီးတည်ဆောက်ရန်နှင့်ပြီးစီးခြင်းမရှိပါက ( ၂၄ ) လပြည့်သည့်နေ့မှစ၍ကျသင့်သော ငှားရမ်းခများကိုပေးသွင်းရန်နှင့်ငှားရမ်းကာလ ကို (၂၄) လပြည့်သည့်နေ့မှစ၍နှစ် ( ၃၀ ) ရေတွက်ရမည်ဖြစ် ပါသည်။

(ဂ) မြေအသုံးချခွင့် ပရီမီယံကြေးအဖြစ်ပန်းဘဲတန်းမြို့နယ်၊ ၃၂လမ်း ရှိ ( ၅၆ × ၄၆ )မြေပေါ်တွင် ( ၇ ) ထပ်အဆောက်အဦကိုကျပ် ၃၂၂သိန်း တန်ဆောက်လုပ်ပေးမည်ဖြစ်ပါသည်။ ယင်းအဆောက်အဦတွင် ( ၁၂.၅ × ၄၀ ) အကျယ်ရှိအခန်း ( ၂၀ )ခန်း ပါရှိမည်ဖြစ်ပြီး ဝံချိန်ဝံသွန်းများနှင့်အညီ ( ၂၄ ) လအတွင်း ဆောက်လုပ်ပေးရမည်ဖြစ်ပါသည်။ (တစ်ကေလျှင်ကျပ်သိန်း ၄၃၀၀ နှုန်းခန့်ရှိပါသည်)။

(ဃ) နှစ်စဉ်မြေငှားရမ်းခအဖြစ်တစ်စတုရန်းမီတာလျှင်ကျပ် ၉၀၀ နှုန်းဖြင့်အသုံးပြုနိုင်သည့်ကြမ်းခင်းဧရိယာ ၁၀၀၀၆ စတုရန်းမီတာအတွက် ခုနှစ်ပေါင်းနှစ်စဉ်ငှားရမ်းခကျပ် ၁၆.၂၅၄သိန်းပေးချေရမည်ဖြစ်ပါသည်။

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှင့်တွင်ရရှိမည့်အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | |
|---|---|
| (က) ဝင်ငွေခွန် (အမေရိကန်ဒေါ်လာသန်း) | ၀.၀၄ |
| (ကျပ်သန်း) | ၅.၆၇ |
| (ခ) မြေငှားရမ်းခရငွေ (ကျပ်သန်း) | ၁.၆၃ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်ပြည်တွင်းမှ ဝန်ထမ်း (၈၅) ဦး နှင့် နိုင်ငံခြားကျွမ်းကျင်သူဝန်ထမ်း (၅) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ် ပါသည်။ နိုင်ငံခြားသားပညာရှင်ဝန်ထမ်းများကို လုပ်ငန်းအဆင်ပြေစွာ ဆောင်ရွက်နိုင်ရေးအတွက်ပထမနှစ်နှင့်ဒုတိယနှစ်များတွင် (၃) ဦး၊ (၆) လသည်ဖြင့်အချိန်ပိုင်းသာခန့်ထားမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

၉။ ဤလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်းနှင့်ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်ပေးထားပါသည်။

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် မော်တော်ယာဉ်တင်သွင်းခွင့် နှင့် ပတ်သက်၍ တည်ဆောက်ရေးကာလအတွင်း Mixer Truck (၁) စီး၊ Tipper (၁) စီး နှင့် Truck (၁) စီး တို့ကို အခွန်အကောက်ကင်းလွတ်ခွင့်ပြုရန်လည်းကောင်း၊ လုပ်ငန်းစတင်ဆောင်ရွက်ချိန်တွင် Mixer Truck (၁) စီး၊ Tipper (၁) စီး နှင့် Truck (၁) စီး ကိုအခွန်အကောက် ၅၀ ရာခိုင်နှုန်း သက်သာခွင့်ပြုရန်လည်းကောင်း တင်သွင်းခွင့်ပြုရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၅/၉၇) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးမှ ဆုံးဖြတ်ခဲ့ပါသည်။

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် ငွေကြေးကိုင်ရဲ့အထောက်အထားအဖြစ် ရောင်းဦး ကုမ္ပဏီလီမိတက်၏ ငွေစာရင်းဘဏ်တွင်အပ်ထားရှိသော ဘဏ်စာရင်းကိုတင်ပြထားပါသည်။

၁၂။ ဤလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီသို့ သဘောထားမှတ်ချက် တောင်းခံရာ ခွင့်ပြုနိုင်ပါကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် ဆက်တိုက် (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို တောင်းခံထားရာ အောက်ပါအတိုင်း သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျှောက်ထားခြင်းမရှိ၍ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ဝန်ဆောင်မှုလုပ်ငန်းကြောင့် ပြည်တွင်းပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကို လုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဃ) အရ သွင်းကုန်အစားထိုးလုပ်ငန်းအဖြစ် အကျိုးကျေးဇူးသည့်လုပ်ငန်းအပေါ် သင့်လျော်သောကာလအထိ ဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကိုအကျုံးဝင်ခြင်းမရှိဟု သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှရရှိသည့်အမြတ်ငွေကိုတစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်သို့မဟုတ်သက်သာခွင့်ကို အမှန်တကယ်ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဘိုးလျော့ငွေကို သတ်မှတ်သည့်နှုန်း အတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည့်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း တင်သွင်းလာသည့် စက်ပစ္စည်းများ နှင့် ဆောက်လုပ်ရေး ပစ္စည်းများ အပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

၁၄။ ဆုံးဖြတ်ရန်အချက်။

(က) ရောင်နီဦး ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ ရုံးခန်း၊ ဆိုင်ခန်း နှင့် လူနေအိမ်ခန်းများ ဆောက်လုပ်၍ ငှားရမ်းခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

(ခ) သဘောတူပါက အထက်အပိုဒ် (၁၃) ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ - မတူ။

အတွင်းရေးမှူး (ကိုယ်စား)
[မောင်မောင်ရဲ၊ တွဲဖက်အတွင်းရေးမှူး]

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။



* အေး * ၂၆-၈-၉၇

## လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏ အခြေခံအချက်များ

(မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁။ | အမည် | - ရောင်နီဦး ကုမ္ပဏီလီမိတက်<br>( Yaung Ni Oo Co., Ltd. )<br>(မြန်မာကုမ္ပဏီ၊ ၅-၃-၉၁ နေ့တွင်ကုမ္ပဏီမှတ်ပုံတင်ပြီး ) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည်<br>လက်ရှိလုပ်ငန်း | - ဦးအောင်ဝင်း<br>- ဆောက်လုပ်ရေး နှင့်အထွေထွေကုန်ပစ္စည်း ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီရုံးခန်း၊ ဆိုင်ခန်း နှင့်လူနေအိမ်ခန်းများ ဆောက်လုပ်၍ငှားရမ်းခြင်း လုပ်ငန်း<br>ဘုန်းကြီးလမ်း ၈-ထပ်အဆောက်အဦ<br>၃၂လမ်း ၄-ထပ်အဆောက်အဦ |
| ၄။ | တည်နေရာ | - မြေကွက်အမှတ် ၁၆၊ ၁၆-က၊ မြေတိုင်းအမှတ်(၂၂ဇော်)<br>ဘုန်းကြီးလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။<br>- မြေကွက်အမှတ် III -၄၆၊ III -၄၇၊ မြေတိုင်းအမှတ်<br>(၁၆အဲ)၊ ၃၂လမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| ၅။ | စုစုပေါင်း ရင်းနှီး မြှုပ်နှံမှု<br>- ငွေပမာဏ<br>- အဆောက်အဦ<br>- စက်ပစ္စည်းကိရိယာနှင့် ဆောက်လုပ်ရေးပစ္စည်း | - ကျပ် ၁၂၃.၀ သန်း (US$ ၀.၅၀ သန်းအပါအဝင်)<br>ကျပ် ၂၀.၀ သန်း<br>ကျပ် ၁၀၀.၀ သန်း<br>ကျပ် ၃.၀ သန်း (US$ ၀.၅၀ သန်း ) |
| ၆။ | မြေအကြောင်းအရာ<br>- မြေအကျယ်အဝန်း | - ဘုန်းကြီးလမ်း ၀.၀၃၀ ဧက( ၁၂၁.၄၀၀ စတုရန်းမီတာ)<br>- ၃၂လမ်း ၀.၀၉၁၈ ဧက( ၃၇၁.၅၀၀ စတုရန်းမီတာ) |

